ကုမ္ပဏီအမည် - Japan Inya Investment Co., Ltd.

လုပ်ငန်း - Developing and Leasing of Office Space and Service Apartment

| စဥ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာတင်ပြခြင်း | ၁၁-၁၂-၂၀၁၅ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က)သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | ၂၂-၁၂-၂၀၁၅ | ၁၅-၁-၂၀၁၆ | |
| | (ခ) မြန်မာနိုင်ငံတော်ဗဟိုဘဏ် | ၁၅-၅-၂၀၁၇ | ၆-၆-၂၀၁၇ | |
| | (ဂ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၁-၁၂-၂၀၁၅ | ၃၀-၁၂-၂၀၁၆ | |
| | (ဃ)ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ | ၁၅-၅-၂၀၁၇ | ၂၆-၆-၂၀၁၇ | |
| | (င) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၁၅-၅-၂၀၁၇ | ၁၉-၆-၂၀၁၇ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၄၇/၂၀၁၅) သို့ တင်ပြခြင်း | ၂၁-၁၂-၂၀၁၅ | | |
| | အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မရမ်းကုန်းမြို့နယ်၊ ကန်ရိပ်သာလမ်းတစ်လျှောက်ရှိ မြေနေရာများတွင် အထပ်အမြင့်အဆောက်အဦ ဆောက်လုပ်ခွင့် လျှောက်ထားလာခြင်းအား ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ ဆိုင်းငံ့ထားသည့်အတွက် ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၃ ရက်နေ့စွဲပါစာဖြင့် အဆိုပြုလွှာပြန်လည်ပေးပို့ခဲ့ပါသည်။ ကုမ္ပဏီမှ အဆိုပြုလွှာများ ပြင်ဆင်တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ထပ်မံ တောင်းခံခဲ့ရာ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီမှ ၂၆-၆-၂၀၁၇ ရက်စွဲပါစာဖြင့် ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားလာပါသည်။ | | | |
| ၄ | ကုမ္ပဏီမှ အဆိုပြုလွှာများ ပြင်ဆင်တင်ပြလာခြင်း | ၉-၅-၂၀၁၇ | | |
| ၅ | ကော်မရှင်အစည်းအဝေးသို့တင်ပြမည့်အကြိမ် | ၁၀/၂၀၁၇ (၁၁-၇-၂၀၁၇) | | |
| | စုစုပေါင်းကြာမြင့်ရက် | **(၆၀ ) ရက်** | | |

ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၃)

PAT ၏ ဆွေးနွေးဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| လုပ်ငန်းအမည် | အမျိုးအစား | PAT အကြိမ်/နေ့စွဲ | ဆွေးနွေးချက်မှပြင်ဆင်ရန်လိုအပ်ချက် | | ဆောင်ရွက်ပြီးစီးမှု | အလံအမှတ် |
|---|---|---|---|---|---|---|
| Japan Inya Investment Co., Ltd. | Developing and Leasing of Office Space and Service Apartment | (၄၇/၂၀၁၅) ၂၀-၁၂-၂၀၁၆ | (က) | ပြည်တွင်းဝယ်ယူမည့် စက်ပစ္စည်းစာရင်းနှင့် ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်း/ လုပ်ငန်းသုံး ပစ္စည်းစာရင်း တို့ကို ခွဲခြားဖော်ပြရန်။ | ပြင်ဆင်ပြီး | |

ကုမ္ပဏီအမည် - **Japan Inya Investment Company Limited**

အဖွဲ့အစည်းပုံသဏ္ဍာန် - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

Inya Capital Pte. Ltd., (Singapore) ၇၄.၉၆ %

MA'CEE Myanmar Co., Ltd. (Myanmar) ၂၅.၀၄ %

လုပ်ငန်းအမျိုးအစား - Developing and Leasing of Office Space and Service Apartment

တည်နေရာ - အမှတ် ၉၊ ကန်ရိပ်သာလမ်း၊ ၁၀ ရပ်ကွက်၊ မြေကွက်အမှတ် ၂၄၊ မြေတိုင်းရပ်ကွက်အမှတ် ၆၂ ကံဘဲ့၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေဧရိယာ ၀.၅၀၁ ဧက

စုစုပေါင်းမတည်ငွေရင်း - US$ ၃၅.၄၃ သန်း

လုပ်ငန်းသက်တမ်း - ၅၀ နှစ်

အရင်းကြေကာလ - ၁၃ နှစ်

IRR - ၄.၈ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

(ကျပ် သန်း)

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ (တစ်နှစ်) | ၃.၀၀ | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၀.၆၇ |
| ၃ | ကုန်သွယ်လုပ်ငန်းခွန် | - | ၂၅၄၈.၀၀ |
| ၄ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၂၃၅.၉၅ | - |
| ၅ | ဝင်ငွေခွန် | ၆၅၅၂.၀၀ | ၂၆၁၈၂.၀၀ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ၉.၃၁ |
| ၇ | CSR (၂ %) | - | ၀.၄၀ |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | - | ပြည်တွင်း ၇၃ ဦး<br>ပြည်ပ ၅ ဦး |
| | | | ပြည်တွင်းလုပ်သား (၇၈) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ၆၇၉၀.၉၅ | ၂၈၇၄၀.၃၈ |
| | Cost : Benefit | ၁ : ၄ | |

## Japan Inya Investment Co., Ltd. မှ ဆောင်ရွက်မည့် Developing and Leasing of Service Apartment လုပ်ငန်းနှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - | Japan Inya Investment Co., Ltd. |
| | ကမကထပြုသူ | - | Mr. Ian Tu ၊ မန်နေဂျင်းဒါရိုက်တာ |
| ၂။ | ဖွဲ့စည်းမှုပုံစံ | - | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Inya Capital Pte. Ltd., (Singapore) ၇၄.၉၆ %<br>-MA'CEE Myanmar Co., Ltd.(Myanmar) ၂၅.၀၄ % |
| ၃။ | တည်နေရာ<br>မြေအကျယ်အဝန်း | - | အမှတ် ၉၊ ကန်ရိပ်သာလမ်း၊ ၁၀ ရပ်ကွက်၊ မြေကွက်အမှတ် ၂၄၊ မြေတိုင်းရပ်ကွက်အမှတ် ၆၂ ကံဘဲ့၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၀.၅၀၁ ဧက |
| | မြေပိုင်ရှင် | - | MA'CEE Myanmar Co., Ltd. |
| | တစ်နှစ်မြေငှားရမ်းခ | - | US$ ၁၁၅,၆၅၃.၄၂ |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - | Developing and Leasing of Office Space and Service Apartment |
| ၅။ | စုစုပေါင်း မတည်ငွေရင်း ပမာဏ | - | US$ ၃၅.၄၃ သန်း<br>ကိုယ်ပိုင်ငွေ US$ ၃၂.၃၄ သန်း(၉၁ % )နှင့်ချေးငွေ US$ ၃.၀၉ သန်း (၈.၇ % ) အပါအဝင် စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပမာဏ US$ ၃၅.၄၃ သန်း |

| | နိုင်ငံခြားသား ထည့်ဝင်မှု US$(million) | နိုင်ငံသား ထည့်ဝင်မှု ကျပ်(သန်း) | စုစုပေါင်း ထည့်ဝင်မှု US$ (million) |
|---|---|---|---|
| ငွေသား | ၂၃.၇၀ | - | ၃၁.၈၀ |
| စက်ပစ္စည်း ကရိယာများ | ၃.၆၃ | - | ၃.၆၃ |
| မြေငှားရမ်းခ | - | ၈.၁၀ | ၈.၁၀ |
| **စုစုပေါင်း** | ၂၇.၃၃ | ၈.၁၀ | **၃၅.၄၃** |

| | | |
|---|---|---|
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး (၅၀)နှစ်၊ (၁၀) နှစ် သက်တမ်းတိုး (၂) ကြိမ် |
| ၇။ | တည်ဆောက်ရေးကာလ | - ၅ နှစ် |
| ၈။ | ဝန်ဆောင်နိုင်မှု<br>(၆ နှစ်မြောက်) | - (see table below) |

| စဉ် | အခန်း အမျိုး အစား | ငှားရမ်းနိုင်မည့်ဧရိယာ (စတုရန်းမီတာ) | တစ်နှစ် တစ်စတုရန်း မီတာငှားရမ်းခနှုန်း (အမေရိကန် ဒေါ်လာ) |
|---|---|---|---|
| (က) | Service Apartment | ၈၄၇၅ | ၈၆.၆၇ |
| (ခ) | Office Space | ၂၅၄၃ | ၈၉.၆၃ |

| | | |
|---|---|---|
| ၉။ | ဝင်ငွေ (၆ နှစ်မြောက်) | - US$ ၉.၅၀ သန်း |
| | အသုံးစရိတ် | - US$ ၅.၆၅ သန်း |
| | အသားတင်အမြတ် | - US$ ၃.၈၅ သန်း |
| ၁၀။ | ဝန်ထမ်းအင်အား | **၇၈ ဦး** |
| | ပြည်တွင်း | - ၇၃ ဦး ( အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ တစ်လ အတွက် လစာ မှာ US$ ၁၀၀ နှင့် အမြင့်ဆုံး လစာ မှာ US$ ၇၀၀ ဖြစ်ပါသည်။ |
| | ပြည်ပ | - ၅ ဦး (အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ တစ်လအတွက် လစာ မှာ US$ ၄၀၀ နှင့် အမြင့်ဆုံး လစာမှာ US$ ၁၀,၀၀၀ ဖြစ်ပါသည်။ |
| ၁၁။ | အရင်းကြေကာလ | - ၁၃ နှစ် |
| ၁၂။ | အရင်းအနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း(IRR) | - ၄.၈ % |
| ၁၃။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်(၆ နှစ်မြောက်) | |
| | ဝင်ငွေခွန် | - US$ ၁.၂၈ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၀.၄၇ သန်း |
| ၁၄။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ် အသားတင်အမြတ်၏ ၂ % အား သုံးစွဲမည်ဖြစ်ပါသည်။ |
| ၁၅။ | နှစ်စဉ်လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၃၄၀၅၀၄၃ kW |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၄ /န-၀၄၅ /၂၀၁၇ ( ၁၀၉ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇူလိုင် လ ၆ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Japan Inya Investment Co., Ltd. မှ ရန်ကုန်တိုင်း ဒေသကြီး၊ မရမ်းကုန်းမြို့နယ်တွင် Developing and Leasing of Service Apartment လုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ စင်ကာပူနိုင်ငံရှိ Inya Capital Pte. Ltd.,မှ အစုရှယ်ယာ ၇၄.၉၆ % နှင့် MA'CEE Myanmar Co., Ltd.မှ အစုရှယ်ယာ ၂၅.၀၄ % ထည့်ဝင်၍ Japan Inya Investment Co., Ltd. အမည်ဖြင့် အမှတ် ၉၊ ကန်ရိပ်သာလမ်း၊ ၁၀ ရပ်ကွက်၊ မြေကွက်အမှတ် ၂၄၊ မြေတိုင်းရပ်ကွက် အမှတ် ၆၂ ကံဘဲ့၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေဧရိယာ ၀.၅၀၁ ဧကတွင် အထပ် (၁၃) ထပ်ပါ အဆောက်အဦ ဆောက်လုပ်၍ Developing and Leasing of Office Space and Service Apartment လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ Mr. Ian Tu မှ အဆိုပြုတင်ပြလာပါသည်။

၂။ Japan Inya Investment Co., Ltd.သည် ဖက်စပ်ကုမ္ပဏီတည်ထောင်ရန် ဆောင်ရွက်ထားရှိမှု စာရွက်စာတမ်းများ တင်ပြထားပါသည်။

၃။ Japan Inya Investment Co., Ltd. သည် Developing of Serviced Apartment for Lease လုပ်ငန်းအတွက် မြေငှားရမ်းခြင်းစာချုပ် (မူကြမ်း)၊ မြေပိုင်ရှင်၏ ပိုင်ဆိုင်မှုအထောက်အထားနှင့် အဆိုပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏတွင် ပါဝင်သော ရှယ်ယာဝင် Inya Capital Pte. Ltd. ထံမှ ချေးငွေအမေရိကန်ဒေါ်လာ ၃.၀၉ သန်း အတွက် ချေးငွေစာချုပ် (မူကြမ်း) များနှင့် ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ်များ တင်ပြထားပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းကာလမှာ ကနဦး နှစ်(၅၀)နှင့် နောက်ထပ် (၁၀) နှစ်(၂)ကြိမ် သက်တမ်းတိုးမြှင့်မည်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ (၅)နှစ်ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၃၅.၄၃ သန်း ဖြစ်ပြီး မတည်ငွေရင်းပမာဏတွင် အစုရှယ်ယာရှင်ထံမှချေးငွေအမေရိကန်ဒေါ်လာ ၃.၀၉ သန်းစုစုပေါင်း မတည်ငွေရင်း၏ (၉ %) ပါဝင်ပါသည်။ ရင်းနှီးမြှုပ်နှံမှုထည့်ဝင်မှု အမျိုးအစားမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| ထည့်ဝင်မှုအမျိုးအစား | နိုင်ငံခြားသား ထည့်ဝင်မှု အမေရိကန်ဒေါ်လာ (သန်း) | နိုင်ငံသား ထည့်ဝင်မှု အမေရိကန်ဒေါ်လာ (သန်း) | စုစုပေါင်းထည့်ဝင်မှု အမေရိကန်ဒေါ်လာ (သန်း) |
|---|---|---|---|
| ငွေသား | ၂၃.၇၀ | - | ၂၃.၇၀ |
| စက်ပစ္စည်း ကိရိယာများ | ၃.၆၃ | - | ၃.၆၃ |
| မြေငှားရမ်းခ | - | ၈.၁၀ | ၈.၁၀ |
| **စုစုပေါင်း** | **၂၇.၃၃** | **၈.၁၀** | **၃၅.၄၃** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၇၃ ဦးနှင့် ပြည်ပဝန်ထမ်း ၅ ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းအနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၁၀၀နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၇၀၀ ဖြစ်ပြီး၊ ပြည်ပအနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၄၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၁၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်း၏ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ဝန်ဆောင်မှု အမျိုးအစား | စုစုပေါင်းငှားရမ်းမည့် ဧရိယာ (စတုရန်းမီတာ) | ငှားရမ်းနိုင်မည့် ဧရိယာ (%) | တစ်နှစ်တစ်စတုရန်း မီတာငှားရမ်းခ နှုန်းထား (အမေရိကန်ဒေါ်လာ) |
|---|---|---|---|---|
| (က) | Service Apartment | ၈၄၇၅ | ၈၀ | ၈၆.၆၇ |
| (ခ) | Office Space | ၂၅၄၃ | ၈၀ | ၈၉.၆၃ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ၆ နှစ်မြောက်တွင် ရရှိမည့်ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

**(အမေရိကန်ဒေါ်လာ သန်း)**

| | |
|---|---|
| ဝင်ငွေ | ၉.၅၀ |
| အသုံးစရိတ် | ၅.၆၅ |
| အသားတင်အမြတ် | ၃.၈၅ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ၆ နှစ်မြောက်တွင်ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာဝင်ငွေခွန် ကျပ် ၁.၂၈ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၀.၅၀သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၁၃ နှစ်ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၄.၈ % ဖြစ်ပါသည်။

၁၀။ ယင်းအဆိုပြု လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ တစ်ဖက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန** **နောက်ဆက်တွဲ-က**

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊လူမှုရေးနှင့်ကျန်းမာရေးထိခိုက်မှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများ ချမှတ်ခြင်း၊ ဆောက်လုပ်ရေးလုပ်ငန်း အဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းကို အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အမြတ်ငွေ၏ ၂ % အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား တိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးအတွက် လုပ်ငန်းအကောင်အထည်မဖော်မီ ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination - IEE ) ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်။

(၃) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာထိခိုက်မှုမဖြစ်စေရေး(သို့မဟုတ်)အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဥ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဥ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဥ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဥ် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

**ကုမ္ပဏီမှ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် E Guard Environment Services Co., Ltd. ဆက်သွယ် ဆောင်ရွက်လျှက်ရှိကြောင်း တင်ပြထားပါသည်။**

(ခ) **မြန်မာနိုင်ငံတော်ဗဟိုဘဏ်** **နောက်ဆက်တွဲ-ခ**

(၁) အဆိုပြုလုပ်ငန်း၏ ချေးငွေသည် မိခင်ကုမ္ပဏီမှ ချေးငွေဖြစ်၍ ချေးငွေစာချုပ်ပါ အတိုးနှုန်း ၇ % (p.a)နှုန်းမှာ များသဖြင့် အတိုးနှုန်း ၅ % ဟု ပြင်ဆင်ညှိနှိုင်းရန်။

(၂) ချေးငွေစာချုပ် အပိုဒ် (၉)တွင် ပါဝင်သော နောက်ကျကြေး မည်မျှဖြစ်သည်ကို ထည့်သွင်းဖော်ပြရန်။

(၃) ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ်အရ ချေးငွေသက်တမ်း ဒုတိယနှစ်တွင် ချေးငွေပြန်လည်ပေးဆပ်ရမည်ဖြစ်ကြောင်းဖော်ပြထားသဖြင့် စီမံကိန်းတည်ဆောက်ဆဲကာလတွင် ချေးငွေပြန်လည်ပေးဆပ်ပါက ငွေကြေး အကြပ်အတည်း ကြုံတွေ့နိုင်သဖြင့် Loan Repayment Schedule အား ပြန်လည်ညှိနှိုင်းရန်။

(၄) အထက်ပါအချက်များ ပြင်ဆင်ပြီးနောက် နိုင်ငံအတွင်းသို့Equity တစ်ရပ်သွင်းယူလာပြီးမှသာ မြန်မာနိုင်ငံတော်သို့ ချေးငွေခွင့်ပြုချက်အတွက် ပြန်လည်တင်ပြရန်။

**ကုမ္ပဏီမှ မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံစာ တင်ပြထားပါသည်။**

(ဂ) **ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ** **နောက်ဆက်တွဲ-ဂ**

Japan Inya Investment Co., Ltd.၏ အဆိုပြုလုပ်ငန်းအား ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးမှ "မူ"အားဖြင့် သဘောတူပြီးဖြစ်ပါသဖြင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏တည်ဆဲလုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း။

(ဃ) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း** **နောက်ဆက်တွဲ-ဃ**

(၁) Solid Waste နှင့် Waste Water Management များကို YCDC ကသတ်မှတ်ပေးထားသော BOD, COD, Suspended Solid များရရှိအောင် ဆောင်ရွက်ပြီးမှ YCDC ၏ ရေမြောင်းသို့ စွန့်ပစ်သင့်ပါသည်။

(၂) Ground Water ထုတ်ယူသုံးစွဲရာတွင် အကန့်အသတ်ရှိလာပြီဖြစ်သောကြောင့် ထိန်းချုပ်သုံးစွဲရန် လိုသောအချိန် ရောက်နေပြီဖြစ်ပါသဖြင့် စဉ်းစားပေးရန်လိုအပ်ပါသည်။

(၃) Disable များအတွက် သွားလာတည်းခိုနိုင်ရန် ထည့်သွင်းစဉ်းစားပေးရန် လိုအပ်ပါသည်။

(၄) သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း။

(၅) အဆောက်အဦအပိုင်းတွင် ပြည်ပမှတင်သွင်းမည့် ဆောက်လုပ်ရေး ပစ္စည်းများနှင့် အရေအတွက်ကို ပူးတွဲပါဇယားအရ ထောက်ခံပါကြောင်း။

(၆) ယခုတင်ပြထားသောပုံစံ၊ ဒီဇိုင်းများသည် အမှန်တကယ် အသေးစိတ် တည်ဆောက်မည့်ပုံစံ၊ ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသော ပစ္စည်းအရေအတွက်များမှာ အမှန်တကယ် သုံးစွဲမည့် အရေအတွက်နှင့် ကွာခြားနိုင်ပါကြောင်း၊ သို့အတွက် လိုအပ်ပါက Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများ ဆောင်ရွက်ရန်လိုအပ်ပါကြောင်း။

(၇) သက်ဆိုင်ရာ မီးသတ်ဦးစီးဌာနမှ ချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း။

**(မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းမှ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ကတိပြု တင်ပြထားပါသည်။)**

(င) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **နောက်ဆက်တွဲ-င**

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၀၁၆ခုနှစ် ဒီဇင်ဘာလ ၂၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော အစည်းအဝေး အမှတ်စဉ် (၃၇/၂၀၁၆)၏ ဆုံးဖြတ်ချက်အပိုဒ် ၄၈ အရ ကန့်ကွက်ရန် မရှိပါကြောင်း။

၁၁။ ငွေကြေးအထောက်အထားအဖြစ် Inya Capital Pte Ltd မှ United Overseas Bank Limited တွင် Account No. ၄၅၀-၉၀၅-၉၇/၂-၆ ဖြင့် ၄-၇-၂၀၁၇ နေ့ရက်စွဲဖြင့် လက်ကျန်ငွေ အမေရိကန်ဒေါ်လာ ၈၄,၂၉၀.၅၂ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ Japan Inya Investment Co., Ltd.မှ Corporate Social Responsibility အဖြစ် ဝန်ထမ်းသက်သာ ချောင်ချိရေးအစီအစဉ်၊ လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းရေး၊ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်မှု အစီအစဉ်တို့အတွက် လုပ်ငန်း၏နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂ % ကို သုံးစွဲမည်ဖြစ်ပါကြောင်းပူးတွဲ တင်ပြထားပါသည်။

၁၃။ နှစ်စဉ်လျှပ်စစ်ဓာတ်အားသုံးစွဲမှုမှာ ၃၄၀၅၀၄၃ kW ခန့်သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး ဆောင်ရွက်မည့်အစီအစဉ်၊ ဝန်ထမ်းသက်သာ ချောင်ချိရေးအစီအစဉ်နှင့် မီးဘေးကြိုတင်ကာကွယ်ရေး အစီအစဉ်တို့အား တင်ပြထားပါသည်။ ယာဉ်ကြောပိတ်ဆို့မှု မရှိစေရေးအတွက်ကြိုတင်ပြင်ဆင်ထားရှိမှု အခြေအနေ (Traffic Management Plan) တင်ပြထားပါသည်။

၁၅။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၆။ Japan Inya Investment Co., Ltd. ၏အဆိုပြုချက်နှင့် စပ်လျဉ်း၍ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၂၁ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက်စိစစ် ရေးအဖွဲ့၏ ၄၇/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးတွင် တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၇။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်။

(က) Japan Inya Investment Co., Ltd. ၏ အဆိုပြုလုပ်ငန်းအား ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးမှ "မူ"အားဖြင့် သဘောတူပြီးဖြစ်ပါသဖြင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီ၏ တည်ဆဲ လုပ်ထုံးလုပ်နည်းများနှင့် အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း။

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပြည်ပမှ စက်ပစ္စည်းတင်သွင်းရာတွင် လူစီးမော်တော်ယာဉ်များပါဝင်ပါက သက်ဆိုင်ရာ ကုန်သွယ်လုပ်ငန်းခွန်များ ပေးဆောင်တင်သွင်းရမည်ဖြစ်ပါသည်။

(ဂ) မော်တော်ကားများ ထားရှိနိုင်မည့် Mechanical Car Park ထည့်သွင်း တည်ဆောက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဃ) အထပ်မြင့် အဆောက်အဦဆောက်လုပ်ခြင်းအတွက် ဘေးပတ်ဝန်းကျင်မှ လူနေအိမ်မှ ကန့်ကွက်ရန်မရှိပါကြောင်း ထောက်ခံချက်များ တင်ပြထားပါသည်။

(င) အဆိုပြုချက်နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၆ ရက်နေ့စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/ ၂၀၁၆ အရ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အဆိုပြုချက်တင်ပြလာခြင်းဖြစ်ပါသည်။

(စ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်များ**

၁၈။ Japan Inya Investment Co., Ltd. အမည်ဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် ၆၂ ကံဘဲ့၊ မြေကွက်အမှတ် ၂၄၊ ၁၀ရပ်ကွက်၊ ကန်ရိပ်သာလမ်း၊ အမှတ် ၉ ရှိ မြေဧရိယာ ၀.၅၀၁ ဧကတွင် အထပ် (၁၃) ထပ်ပါ အဆောက်အဦ ဆောက်လုပ်၍ Developing and Leasing of Office Space and Service Apartment လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

(ဥက္ကဋ္ဌ ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်း လုပ်ငန်း အဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/MIC(OSS)/ECD/ ၀၁(၀၇/၁၆ )
ရက် စွဲ ၊ ၂၀၁၆ခုနှစ် ဇန်နဝါရီလ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Japan Inya Investment Co.,Ltd မှ အထပ်(၁၇)ထပ်ပါအဆောက်အဦဆောက်လုပ်၍ Developing of Serviced Apartment for Lease လုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်ပြီးသဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၁၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၄ / ၃-၁၄၅ / ၂၀၁၅(၁၂၀၄- ဃ)

၁။ Japan Inya Investment Co.,Ltd မှ မြေတိုင်းရပ်ကွက်အမှတ်-၆၂၊ မြေကွက်အမှတ်(၂၄)၊ ကန်ရိပ်သာလမ်း၊ ကံဘဲ့ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိမြေ(၀.၅၀၁)ဧကတွင် အထပ်(၁၇)ထပ်ပါအဆောက်အဦဆောက်လုပ်၍ Developing of Seviced Apartment for Lease လုပ်ငန်းအားနိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်ပတ်သက်၍ စီစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေး ပါရန်ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ တင်ပြလာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ(၅၀)နှစ်ဖြစ်ပြီး(၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၄)နှစ်ဖြစ်ပြီးအဆောက်အဦတွင်(၁၃)ယောက်လိုက်ပါစီးနင်းနိုင်သည့် ခံနိုင်ဝန်အားရှိသော ဓာတ်လှေကား(၄)ဆင်း၊ မီးဘေးအရေးပေါ်လှေကား(၂)ဆင်း၊ လူနေအိမ်ခန်း(၆၀)နှင့်မြေအောက်တွင် ကားအစီးရေ(၈၀)ရပ်နားနိုင်သည့် Mechanical Car Parking များပါရှိမည်ဖြစ်ကြောင်း၊ မီးဘေးကြိုတင်ကာကွယ်ရေးအစီအမံများဆောင်ရွက်ထားရှိမည် ဖြစ်ပြီးလုပ်ငန်းမှရရှိလာသော အသားတင်အမြတ်ငွေ မှ(၂%)အားလူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate Social Respo-

nsibility - CSR ) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ လေထုညစ်ညမ်းမှုမဖြစ်ပေါ်လာစေရေး အတွက်စံချိန်စံနှုန်းနှင့်ညီညွတ်သော modern emission equipment အသစ်များအား ဝယ်ယူသုံးစွဲသွားမည်ဖြစ်ကြောင်း၊ ဆောက်လုပ်ရေးလုပ်ငန်းခွင်အတွင်းဆူညံမှုများကိုလျော့ ချနိုင်ရန် ကြိုတင်သွန်းလောင်းထားသော beam များ၊ slab များ၊ wall panel များကိုသာ အသုံးပြုမည်ဖြစ်ကြောင်း၊ ထွက်ရှိလာသောအမှိုက်များအားရန်ကုန်မြို့တော်စည်ပင်သာယာ ရေးကော်မတီနှင့်ဆက်သွယ်၍စွန့်ပစ်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ အဆိုပြုပါလုပ်ငန်းများဆောင်ရွက်ခြင်းကြောင့်တည်ဆောက်ရေးကာလအတွင်းမြေနေ ရာရှင်းလင်းခြင်း၊ တူးဖော်ရေးလုပ်ငန်းများဆောင်ရွက်ခြင်း၊ လုပ်ငန်းသုံးယာဉ်ယန္တရားများမှ အခိုးအငွေ့များ ထုတ်လွှတ်ခြင်းတို့ကြောင့် ပတ်ဝန်းကျင်လေထုညစ်ညမ်းခြင်း၊ အသံဆူညံ ခြင်း၊အလုပ်သမားများမှအရည်/အစိုင်အခဲများစွန့်ပစ်ခြင်း၊ မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ရေထု၊ လေထု၊ မြေထုညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Japan Inya Investment Co.,Ltd မှအထပ်(၁၇)ထပ်ပါအဆောက်အဦ ဆောက်လုပ်၍ Developing of Seviced Apartment for Lease လုပ်ငန်းအားဆောင် ရွက် ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ် ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကိုလျော့နည်းစေရန်အတွက်လုပ်ငန်းစီမံချက် များချမှတ်ခြင်း၊ ဆောက်လုပ်ရေးလုပ်ငန်းအဆင့်ဆင့်တို့အတွက်ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကိုအသုံးပြု ခြင်းနှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (CSR) အားအမြတ်ငွေ၏(၂%)ထည့်ဝင်သွားရန် ကတိကဝတ်များ၊ လုပ်ငန်း စီမံချက်များအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်သွားရန်။

(ခ) ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်လုပ်ငန်းဆောင်

ရှက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်/ အခိုးအငွေ့စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Enviromental Manangement Plan-EMP)ရေးဆွဲတင်ပြ၍စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဂ) ပြဋ္ဌာန်းထားသည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့် အညီလိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီး၊
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)၊
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ -(၁)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံတော်ဗဟိုဘဏ်

စာအမှတ်၊ မဗဘ/ ဘဏ်စီစစ်/ ၄ (၁၂၇/ ၂၀၁၇)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဇွန်လ ၁၂ ရက်

သို့

တွဲဖက်အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **Japan Inya Investment Co., Ltd. က မိခင်ကုမ္ပဏီဖြစ်သော Inya Capital Pte. Ltd. ထံမှ ချေးငွေအမေရိကန်ဒေါ်လာ ၃.၀၉ သန်း ချေးယူရန် တင်ပြလာခြင်းကိစ္စအပေါ် သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆-၆-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၄/ န-၀၄၅/ ၂၀၁၇ (၃၈၈)

(၂) မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ ၆-၆-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မဗဘ/ ဘဏ်စီစစ်/ ၄ (၁၂၃/၂၀၁၇)

Japan Inya Investment Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီးတွင် အထပ် (၁၇)ထပ်ပါ အဆောက်အဦအစား အထပ် (၁၃)ထပ်ပါ အဆောက်အဦဆောက်လုပ်၍ Developing of Services Apartment for Lease လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြရာတွင် မိခင်ကုမ္ပဏီဖြစ်သော စင်ကာပူနိုင်ငံရှိ Inya Capital Pte. Ltd. ထံမှ ချေးငွေအမေရိကန်ဒေါ်လာ ၃.၀၉ သန်း ချေးယူရန် ကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းချက် (၁) ပါစာဖြင့် ဆောလျင်စွာ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ထပ်မံအကြောင်းကြားလာခြင်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံတော်ဗဟိုဘဏ်က ရည်ညွှန်းချက် (၂)ပါစာဖြင့် သဘောထားမှတ်ချက်ပြန်ကြားခဲ့ပြီးဖြစ်ပါသည်။ ပြန်ကြားစာအား ပူးတွဲလျက် ပေးပို့အပ်ပါသည်။

ဒုတိယဦးဆောင်ညွှန်ကြားရေးမှူး (ကိုယ်စား)
(မေတိုးဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
ရုံးလက်ခံ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံတော်ဗဟိုဘဏ်

စာအမှတ်၊ မဗဘ/ ဘဏ်စိစစ်/ ၄ (၁၂၃/ ၂၀၁၇)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဇွန်လ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ Japan Inya Investment Co., Ltd. က မိခင်ကုမ္ပဏီဖြစ်သော Inya Capital Pte. Ltd. ထံမှ ချေးငွေအမေရိကန်ဒေါ်လာ ၃.၀၉ သန်း ရယူရန် တင်ပြလာခြင်းကိစ္စအပေါ် သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၅-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၄/ န-၀၄၅/ ၂၀၁၇ (၃၈၈)

၁။ Japan Inya Investment Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီးတွင် အထပ် (၁၇)ထပ်ပါ အဆောက်အဦအစား အထပ် (၁၃)ထပ်ပါ အဆောက်အဦဆောက်လုပ်၍ Developing of Services Apartment for Lease လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြရာတွင် မိခင်ကုမ္ပဏီဖြစ်သော စင်ကာပူနိုင်ငံရှိ Inya Capital Pte. Ltd. ထံမှ ချေးငွေအမေရိကန်ဒေါ်လာ ၃.၀၉ သန်း ချေးယူရန် ကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းချက်ပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံလာခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

(က) ချေးငွေစာချုပ်အပိုဒ် (၁)တွင် ချေးငွေအပေါ် အတိုးနှုန်းအား ၇%(p.a) ထက်မပိုသော အတိုးနှုန်းဟု ဖော်ပြထားသော်လည်း MIC သို့ တင်ပြစာပါ Annex 2b- Loan Repayment Schedule တွင် ချေးငွေအပေါ် အတိုးနှုန်းအား ၅%(p.a) ဟု ဖော်ပြထားသဖြင့် ချေးငွေစာချုပ်နှင့် MIC သို့ တင်ပြစာပါအချက်များ ကွဲလွဲနေသဖြင့် အမှန်အတိုးနှုန်းကိုဖော်ပြရန်နှင့် မိခင်ကုမ္ပဏီမှ ချေးငွေဖြစ်၍ ချေးငွေစာချုပ်ပါအတိုးနှုန်း ၇%(p.a) မှာ များပါသည်။ MIC သို့ တင်ပြစာပါ အတိုးနှုန်းအတိုင်း ၅%(p.a) ဟု ပြင်ဆင်ညှိနှိုင်းသင့်ပါသည်၊

(ခ) ထို့ပြင် ချေးငွေစာချုပ်အပိုဒ် (၉) တွင် နောက်ကျမှုအပေါ် တွက်ချက်တောင်းခံမည့် နောက်ကျကြေးကို ကွက်လပ်အနေဖြင့်သာ ဖော်ပြထားပါသည်။ သို့ဖြစ်၍ ကုမ္ပဏီ အနေဖြင့် နောက်ကျဒဏ်ကြေး မည်၍မည်မျှဖြစ်သည်ကို ထည့်သွင်းဖော်ပြရပါမည်၊

(ဂ) MIC သို့ တင်ပြစာပါ Loan Repayment Schedule အရ ချေးငွေသက်တမ်း၏ ဒုတိယနှစ်တွင် ချေးငွေအရင်း အမေရိကန်ဒေါ်လာ ၄၉,၂၀၀ အား ပြန်လည်ပေးဆပ်

ရမည်ဖြစ်ကြောင်း ဖော်ပြထားရာ အဆိုပါကာလမှာ စီမံကိန်းတည်ဆောက်ဆဲကာလဖြစ်၍ ကုမ္ပဏီအနေဖြင့် ဝင်ငွေမရှိသေးဘဲ ချေးငွေပြန်လည်ပေးဆပ်ရပါက ငွေကြေးအကြပ်အတည်းကြုံတွေ့ရနိုင်သဖြင့် Repayment Schedule အား ပြန်လည်ညှိနှိုင်းရန်ဖြစ်ပါသည်၊

(ဃ) ကုမ္ပဏီအနေဖြင့် လုပ်ငန်းအဆိုပြုချက်တင်သွင်းစဉ် ချေးငွေရယူရန် တင်ပြလာခြင်းဖြစ်၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုများ ဝင်ရောက်လာခြင်းမရှိသေးဟု ယူဆပါသည်။

၂။ သို့ဖြစ်ပါ၍ Japan Inya Investment Co., Ltd. အနေဖြင့် အထက်အပိုဒ် ၁ (က)၊ (ခ) နှင့် (ဂ) ပါ အချက်များအား ပြင်ဆင်ရန်နှင့် နိုင်ငံတွင်းသို့ Equity တစ်ရပ် သွင်းယူလာပြီးမှသာ မြန်မာနိုင်ငံတော်ဗဟိုဘဏ်သို့ ချေးငွေခွင့်ပြုချက်အတွက် ပြန်လည်တင်ပြရန်ဖြစ်ပါသည်။

၆/၁၂/၂၀၁၇

ဥက္ကဋ္ဌ(ကိုယ်စား)
(ခင်စောဦး၊ ဒုတိယဥက္ကဋ္ဌ)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်၊ နိုင်ငံခြားသုံးငွေစီမံခန့်ခွဲမှုဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
Japan Inya Investment Co., Ltd.
ရုံးလက်ခံ

VM3-458
28/6

နောက်ဆက်တွဲ - (ဂ)

၁၁၉-87
28/6

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီးအစိုးရ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့တော်ခန်းမ၊ ရန်ကုန်မြို့

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ ရုံး
အမှတ် ---
ရက်စွဲ ---
ကော်မတီရုံး

စာအမှတ် ၊ ၁၀၉ / ၀၁ (၂၄၂၈) /စသက
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဇွန်လ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

P.1284
27.6.17

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၅-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက - ၄ / န-၀၄၅ / ၂၀၁၇ (၃၈၉)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆-၆-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက - ၄ / န-၀၄၅ / ၂၀၁၇ (၄၄၀)

(၃) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၁၆-၆-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ ၄/၈-၁(၁၄)/စည်ပင်(အစည်းအဝေး)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ ကံဘဲ့ရပ်ကွက်၊ ကန်ရိပ်သာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ် ၆၂၊ မြေကွက်အမှတ် ၂၄ တွင် Japan Inya Investment Co.,Ltd မှ မြေ ၀.၅၀၁ ဧကအား အထပ် ၁၇ ထပ်ပါ အဆောက်အဦဆောက်လုပ်၍ Developing of Serviced Apartment for Lease လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ Mr.Ian Tu မှ ၁၁-၁၂-၂၀၁၅ ရက်နေ့တွင် လျှောက်ထားခဲ့ပြီး ၉-၅-၂၀၁၇ ရက်နေ့တွင် ၁၇ ထပ်အဆောက်အဦအစား အထပ် ၁၃ ထပ်ပါ အဆောက်အဦဆောက်လုပ်၍ Developing of Serviced Apartment for Lease လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းနှင့်ပတ်သက်၍ ရည်ညွှန်း(၁)နှင့်(၂)ပါစာများဖြင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီသို့ သဘောထားမှတ်ချက် တောင်းခံလာပါသည်။

၂။ ပူးတွဲတင်ပြပုံစံအား စိစစ်ရာတွင် Basement + ၁၄ ထပ် အဆောက်အဦဖြစ်ပြီး မြေချန်များ အနေဖြင့် Ground Floor & 1st Floor တွင် ရှေ့ဘက်မြေချန် - ၃၄'-၀"၊ နောက်ဘက်မြေချန် - ၂၀'-၀"၊ ဝဲဘက်မြေချန်-၂၃'-၀"၊ ယာဘက် မြေချန် - ၆'-၆" ဖြင့် လည်းကောင်း၊ 2nd Floor to 13th Floor တွင် ရှေ့ဘက်မြေချန် - ၂၇'-၀"၊ နောက်ဘက်မြေချန် - ၁၃'-၀"၊ ဝဲဘက်မြေချန် - ၁၆'-၀"၊ ယာဘက် မြေချန် - ၆'-၆"ဖြင့်လည်းကောင်း၊ အဆောက်အဦအမြင့် - ၁၇၅'-၀"၊ ပင်လယ်ရေမျက်နှာပြင်

အထက်အဆောက်အဦအမြင့် - ၂၄၄'-၀" ၊ Floor Area Ratio= ၇.၀၅၊ Building Coverage Ratio = ၀.၅၉၈ ဖြင့်လည်းကောင်း၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ လုပ်ထုံးလုပ်နည်းအရ ဆောက်လုပ်မည့်နေရာ၏ Road Building Ratio(RBR) အရ ဆောက်လုပ်၍ ရရှိနိုင်သော အဆောက်အဦအမြင့် ၁၆၂'-၀" နှင့် လိုအပ်သော ကားစီးရေမှာ (၁၁၄)စီး ဖြစ်သော်လည်း ယခု တင်ပြလာသော အဆောက်အဦမှာ အမြင့် ၁၇၅'-၀"၊ ကားစီးရေ(၉၆)စီးဖြင့် ဆောက်လုပ်ခွင့် ပြုရန် အဆောက်အဦအမြင့်ပေ သတ်မှတ်ပေးနိုင်ပါရန်နှင့် လိုအပ်သောအေးပတ်ဝန်းကျင် ထောက်ခံချက်များကို တင်ပြစေပြီး Basement+(၁၄)ထပ် Office + Residence အဆောက်အဦ ဆောက်လုပ်ခွင့်ကို ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ “မူ”အားဖြင့်သဘောတူကြောင်း ရည်ညွှန်း (၃)ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ မရမ်းကုန်းမြို့နယ်၊ ကံဘဲ့ရပ်ကွက်၊ ကန်ရိပ်သာလမ်း၊ မြေတိုင်းရပ်ကွက် အမှတ် ၆၂၊ မြေကွက်အမှတ် ၂၄ တွင် ယခင် ၁၇ ထပ် အစား Basement + ၁၄ ထပ် Office + Residence အဆောက်အဦ ဆောက်လုပ်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးမှ "မူ"အားဖြင့် သဘောတူပြီးဖြစ်ပါ၍ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ တည်ဆဲ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

ကြံလှ 
၂၆/၆/၂၀၁၇

ဉက္ကဋ္ဌ(ကိုယ်စား)
(ဉာဏ်လင်းစိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို
မျှောစာတွဲ
ရုံးလက်ခံ

နောက်ဆက်တွဲ -(ဃ)


မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

**MYANMAR ENGINEERING SOCIETY**

Hlaing Universities' Campus, Hlaing Township, Yangon, Myanmar

Tel : 95-1-519673 ~ 76, Fax : 95-1-519681

E-mail:mes@mptmail.net.mm, Website: www.mes.org.mm


သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မအသ / MIC / ၀၄၄၂ / ၂၀၁၇ ။

ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဇွန်လ ( ၁၉ ) ရက်။

**အကြောင်းအရာ။** ။ **Japan Inya Investment Co.,Ltd ၏ အထပ်(၁၃) ထပ်ပါ အဆောက်အဦ ဆောက်လုပ်၍ Developing of Serviced Apartment for Lease လုပ်ငန်း နှင့်စပ်လျဉ်း၍ သဘောထား မှတ်ချက်တောင်းခံထားသည့် ကိစ္စ။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅.၅.၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၄/န-၀၄၅/ ၂၀၁၇(၃၉၀)။

၁။ အထက်ဖော်ပြပါ အကြောင်းအရာကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သက်ဆိုင်ရာ Japan Inya Investment Co.,Ltd မှ ၂၀၁၇ ခုနှစ်၊ မေလ (၁၅) ရက်စွဲဖြင့် ရန်ကုန်တိုင်း ဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် ၆၂၊ မြေကွက်အမှတ်(၂၄)၊ ကန်ရိပ်သာလမ်း၊ကံဘဲ့ရပ်ကွက် ရှိ မြေ ၀.၅၀၁ ဧက တွင် အထပ်(၁၃) ထပ်ပါ အဆောက်အဦ ဆောက်လုပ်၍ Developing of Serviced Apartment for Lease လုပ်ငန်း ဆောက်ရွက်ရန် အဆောက်အဦနှင့် ပတ်သက်သော ပုံစံများနှင့် အသေးစိတ်ဇယားများကို လိုအပ်သော လမ်းညွှန်ချက်များ ပေးပါရန် တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့် ပတ်သက်၍ (၁၇.၅.၂၀၁၇)ရက်နေ့မှ (၆.၆.၂၀၁၇) ရက်နေ့အထိ လိုအပ်သော ပုံစံနှင့် BQ များတောင်းခဲ့ရပြီး (၉.၆.၂၀၁၇) ရက်နေ့အထိ အဆောက်အဦအတွက်အသုံးပြုမည့် ဆောက်လုပ်ရေးပစ္စည်းများကို စိစစ် သုံးသပ်ခဲ့ပါသည်။ (၉.၆.၂၀၁၇) တွင် ထောက်ခံတင်ပြသော အရေအတွက် အပေါ် ကုမ္ပဏီ ဘက် သို့ သဘောတူကြောင်း စာတောင်း ခံခဲ့ရာ ၊ (၁၂.၆.၂၀၁၇) နေ့တွင် ရရှိခဲ့ ပါသည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ သဘောထားမှတ်ချက်ပေးနိုင်ရေး အတွက် Presentation ပြုလုပ်ရန်ဖိတ်ကြားချက်အရ Japan Inya Investment Co.,Ltd မှ HIDEKAZU HIRKI ၊ ဒေါ်ဇင်မေစိုး၊ ဒေါ်အေးရတနာစိုး၊ ဒေါ်အေးစန္ဒာဝင်း၊ ဒေါ်ယွန်းအိကျော် တို့မှ (၁၄.၆.၂၀၁၇) ရက်နေ့တွင် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း သို့ လာရောက်၍ စီမံကိန်း နှင့် ပတ်သတ်သော အချက်အလက်များကို ရှင်းလင်းတင်ပြခဲ့သည်။

၄။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း မှ MIC Projects Assessment Committee အဖွဲ့ဝင် များဖြစ်ကြသော အတွင်းရေးမှူး ဦးကြည်လွင်၊ အဖွဲ့ဝင် များဖြစ်ကြသော ဦးကျော်စန်ဝင်း၊ ဦးခင်မောင်ဌေး၊ ဦးခင်မောင်မောင် တို့တက်ရောက်ခဲ့ကြပါသည်။

၅။ ထိုသို့ ရှင်းလင်းမှုများ အပြီးတွင် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း မှ စီမံကိန်းအကောင်အထည်ဖော်ရေး နှင့် ပတ်သတ်၍ အောက်ပါ အချက်အလက်များကို လိုက်နာဆောင်ရွက်ရန် အကြံပြုအပ်ပါသည်။

(က) Solid Waste နှင့် Waste Water Management များကို YCDC ကသတ်မှတ်ပေးသော BOD,COD, Suspended Solid များရရှိအောင် ဆောင်ရွက်ပြီးမှ YCDC ၏ ရေမြောင်းသို့ စွန့်ပစ်သင့်ပါသည်။

(ခ) Ground Water ထုတ်ယူသုံးစွဲရာတွင် အကန့်အသတ်ရှိလာပြီ ဖြစ်သောကြောင့် ထိန်းချုပ်သုံးစွဲရန် လိုသောအချိန် ရောက်နေပြီဖြစ်ပါသဖြင့် စဉ်းစားပေးရန် လိုအပ်ပါသည်။

(ဂ) Disable များအတွက် သွားလာတည်းခိုနိုင်ရန် ထည့်သွင်းစဉ်းစားပေးရန် လိုအပ်ပါသည်။

၆။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ရန်ကုန်တိုင်းဒေသကြီးတွင်၊ Developing of Serviced Apartment for Lease တည်ဆောက်ခြင်းလုပ်ငန်း တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၇။ အဆောက်အဦပိုင်းတွင် အဓိကဆောက်လုပ်ရေးပစ္စည်းဖြစ်သော Cement နှင့် Rebar ကို ပြည်ပမှ တင်သွင်းခြင်းမပြုဘဲ ပြည်တွင်းမှသာ ဝယ်ယူ၍ ဆောက်လုပ်မည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

၈။ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ပူးတွဲ (၁) ပါ ဇယား ဖြင့် ထောက်ခံတင်ပြအပ်ပါသည်။

မှတ်ချက်။ ။(၁) ယခုတင်ပြသော စီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ် တည်ဆောက်မည့် ပုံစံဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက Detail Drawings မှ တွက်ချက်ထားသော Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(အောင်မြင့်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

**မိတ္တူကို** – ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

– Managing Director, Japan Inya Investment Co.,Ltd

–အတွင်းရေးမှူး၊ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း MIC Projects Assessment Committee

– ရုံးလက်ခံ / မျှောစာတွဲ

MIC Projects Assessment Committee
Myanmar Engineering Society

| စဉ် | အမျိုးအမည် | unit | MIC စာအုပ်ပါ အရေအတွက် | BQ တွင် ပါဝင်သော အရေအတွက် | ထောက်ခံ တင်ပြသော အရေအတွက် |
|---|---|---|---|---|---|
| 1 | Mechanical Parking System IHI | System | 4 | 4 | 4 |
| 2 | Self Cleaning Exterior Wall Paint Hydrotect -TOTO | sqm | 9619 | 9619 | 9619 |
| 3 | Steel Doors -835x2000x60- Sanwa HD | units | 192 | 192 | 192 |
| 4 | Rooftoop Waterproffing system -Sheet type Ube Kosen HD | sqm | 1000 | 999.85 | 934 |
| 5 | Stone marble granite | sqm | 3449 | 2099.9 | 2099.9 |
| 6 | Home Theatre System -BOSE | units | 95 | 95 | 57 |
| 7 | Media Hub Extender-Teleadept | units | 95 | 95 | 92 |
| 8 | Video Conference system | Sets | 5 | 5 | 5 |
| 9 | Digital Scales | units | 95 | 95 | 76 |
| 10 | Duvet (King size) | units | 60 | 60 | 53 |
| 11 | Duvet(Queen size) | units | 70 | 70 | 53 |
| 12 | Duvet(Single size) | units | 29 | 29 | 29 |
| 13 | Rollaway bed-store/housekeeping | units | 40 | 40 | 40 |
| 14 | Steam Oven | units | 95 | 95 | 76 |
| 15 | Dish washer | units | 95 | 95 | 76 |
| 16 | AED Kits | units | 15 | 15 | 15 |
| 17 | Fire Blankets | Sets | 130 | 130 | 130 |
| 18 | Knife Set Apartments | Sets | 95 | 95 | 95 |
| 19 | Spoon Folk Knife Set | Sets | 94 | 94 | 94 |
| 20 | Salt & Pepper Mill Set | Sets | 95 | 95 | 95 |

sqm = စတုရန်းမီတာ , , Units = ခုရေ , Set = ခုရေ ,

၁၁၆ ၅၀
17.1.2017

နောက်ဆက်တွဲ - (c)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၈) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၃၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **Lakeside Serviced Apartment တည်ဆောက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ**

ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်အနောက်ပိုင်းခရိုင်၊ မရမ်းကုန်းမြို့နယ်၊ ကမ္ဘာအေးဘုရားလမ်းနှင့် ဦးထွန်းငြိမ်းလမ်းကြား၊ ကန်ရိပ်သာလမ်းပေါ်ရှိ အမှတ်(၉)၊ ဧရိယာ (၀. ၅၀၁)ဧကတွင် (၁၃)ထပ်ပါ Lakeside Serviced Apartment တည်ဆောက်ခွင့်ပြုပါရန် Japan Inya Investment Company Limited မှ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ (၂၈. ၁၂. ၂၀၁၆) ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၇/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၄၈)အရ ကန့်ကွက်ရန်မရှိပါကြောင်း အကြောင်းကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ပန်းဘဲတန်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Japan Inya Investment Company Limited ] အထပ်မြင့်အဆောက်အဦ ဆောက်လုပ်ခွင့်အတွက် ခွင့်ပြုချက်အား ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီထံမှရယူရန်။

လက်ခံစာတွဲ
မျှောစာတွဲ

D/2016/Cabinet/27(48)

Japan Inya Investment Company Limited
7-A Riverside Residence, Strand Road, Latha Township, Yangon, Myanmar

The Chairman
The Myanmar Foreign Investment Commission
Yangon
The Republic of the Union of Myanmar

**Subject: Proposal from the Promoter for a high-quality international standard serviced apartments project in Myanmar**

Your Excellency,

Japan Inya Investment Company Limited will be incorporated in Myanmar as a private limited liability company. It is a joint venture between Ma'cee Myanmar Company Limited (a company incorporated in Myanmar) and Inya Capital Pte. Ltd (a company incorporated in Singapore). The Company is under process of registration for incorporation with DICA.

The Company will be owned by two shareholders with a shareholding ratio of 25.04% for Ma'cee Myanmar Limited, represented by Daw May Chan Mye Phyu, 74.96% for Inya Capital Pte. Ltd, represented by Mr. NAOKI OKUMURA and Mr. MASANORI KINJO.

The Company is proposing to provide high-quality international standard serviced apartments to those who live in Myanmar including locals and business expatriates.

This investment will be promoted by Daw May Chan Mye Phyu, on behalf of Ma'cee Myanmar Company Limited and Mr. NAOKI OKUMURA and Mr. MASANORI KINJO, on behalf of Inya Capital Pte. Ltd.

The investment is planned to be the development of a 13-story residential plus office mixed used building project on an area of 0.510 acres located at No. 9 Kan Yeiak Thar Street, 10 Ward, Mayangone Township, Yangon, Myanmar. Residential units will then be leased on both a long-term and short-term basis to tenants in Myanmar.

## GLOBAL PROFILE

***Inya Capital Pte. Ltd (Inya Capital)***

Inya Capital was established on 30 October 2013 with company registration No.201227582W and located at 6 Temasek Boulevard, #29-00 Suntec Tower Four, Singapore (038986).

Inya Capital was established with the purpose of providing highest international standard residential and commercial building development as well as investments predominantly in ASEAN countries. Shareholders of Inya Capital comprise of high credential corporations as listed below:

***STASIA CAPITAL SINGAPORE PTE. LTD.***

Stasia Capital Group founded in 2002, now with offices in Japan, USA, UK, China, HK, Singapore, Thailand, Malaysia, Myanmar, is the real estate solution company that provides full services on real estate including

sales, leasing, investment consultation, asset management, market research and associated businesses. Stasia optimizes and maximizes client's asset through providing most appropriate investment opportunities and asset management for each client.

***INFINIA CAPITAL HOLDINGS PTE. LTD***

Infinia Capital Holdings Pte. Ltd, established in 2013 in Singapore, is a company dedicated to conduct development of commercial and residential buildings in Asia. It also provides consulting services for project management, real estate related legal consultations, and financial consultations.

***BELLUNA CO., LTD.***

BELLUNA Co., Ltd, a company established in 1977 as general mail order business provider, has 1212 employees at the end of March, 2014. The company registered US$ 84.85 million capital (8 June 2015 with 125 JPY for 1 USD) and its annual sales is US$ 1 billion (Fiscal Year 2004). It conducts general mail order business, specialty mail order business, solution business, finance business and property business. It develops commercial and residential buildings in ASEAN and South Asian countries as well as United States and Europe. It is listed in First Division on Tokyo Stock Exchange.

***NTT URBAN DEVELOPMENT CORPORATION***

NTT Urban Development Corporation is a group member company of NTT Corporation established in 1986. With US$ 383 million capital (8 June 2015 with 125 JPY for 1 USD) and annual sales of US$ 1.5 billion (Fiscal Year 2013), it conducts acquisition, sales and management of properties, brokerage, assessment and leasing, architectural design, construction and site supervision, sales and leasing of O/A and telecommunication equipment, construction and sales of detached and semi-detached houses, information collecting, management, analysis of real estate market data and providing consultancy, IT and telecommunication infrastructure provider for tenants, and a investor and investment consultancy service provider on real estate investments. It has 443 employees at the end of 2014 and listed in First Division on Tokyo Stock Exchange.

***THE SANKEI BUILDING CO., LTD***

The Sankei Building Co., Ltd, established in 1951, conducts leasing, dealing, management and evaluation of properties, architecture design, construction and site supervision, management and operation of nursery homes, leasing of theatre and cinema halls as well as event planning, management and operation of restaurants and hotels, general lease and artifacts sales. It registers US$ 153 million capital ((8 June 2015 with 125 JPY for 1 USD). It is a privately owned company and is a group constituent of Fuji Media Holdings.

***MA'CEE MYANMAR COMPANY LIMITED***

Ma'cee Myanmar Company Limited was established on 31 July 2013 with certificate of incorporation No. 2082/2013-2014.

**BUSINESS PURPOSES OF THE INVESTMENT**

The Company sees a significant opportunity to develop a serviced apartment project for leasing in the Republic of the Union of Myanmar to increase the number of serviced apartments units available.

In this project, the Company aims to develop a high-quality serviced apartment project to meet demand, as due to the country's rapid economic growth, such units are in short supply. The property is designed to provide an international-standard, quality living environment to those who deserve a high-end lifestyle.

Our effort to ensure the quality of the project began with ensuring we had the proper JV members, a combination of well-positioned local and Japanese estate investors that know what the affluent require.

In this joint effort, we aim to create one of the most reputable residences in the heart of Yangon, which in terms of the quality of the property and the fixtures, as well as the service, will meet international standards.

Below is the basic information regarding the project:

- Construction period: within 05 years
- Location: No. 9 Kan Yeiakthar Street, Ward (10), Mayangone Township, Yangon Region, Myanmar
- Construction scale: The condominium will be built on a land area of 0.510 acres.The building will comprise 13 stories plus office mixed used building project, which will consist of residential units and 1 underground levels for car parking.
- Type of land: The Company will obtain leasehold on the land for 50 years with possible extensions. The owner of the land is Ma'cee Myanmar Company Limited who is also a partner JV for implementing this project

Please see more details on the project in our business plan attached herewith.

## CAPITAL INVESTMENT AND EMPLOYMENT GENERATION BY THE COMPANY

The Company will be deploying a total investment of US$ 35.4 million for the project, which will be mostly funded by the owners' equity and shareholder loan during the 10-year investment period.

The investment will directly create about 80 job opportunities and hundreds of indirect jobs via constructor/sub-contractor during construction period. The investment will also develop a strong base of technically skilled manpower working with global processes and practices.

## COMMUNITY APPROACH

As we aim to become a market leader in the supply of high quality and international standard serviced apartments, we believe that as the Company grows, one aspect that will factor into its long-term success is good conditions its workers and the community, as well as a positive organizational structure. The Company's main aims are to minimize the environmental pollution and other adverse conditions, and to support the communities it works in as well as to develop and improve its employee workforce.

*Health & Safety*

Our health and safety practices and procedures ensure that we provide and strive to consistently maintain a clean, healthy and safe working environment based on highest industry standards.

During the construction period, Engineering Safety and Health Specialist will be appointed to the project management team. His/ her role is to design and implement safety measures for the construction site. Strict safety guidelines will be set and closely monitored throughout the construction period. The safety guidelines will be synchronized to the Japanese industry standards which is one of the highest in the world as well as standards of International Labour Organization (ILO) in order to make sure we have zero accidents and injuries on the site. Besides the safety measures, healthcare will be provided on and off the site as a part of social welfare system.

Our health and safety practices and procedures ensure that we provide and strive to consistently maintain a clean, healthy and safe working environment based on standard business practices.

*CSR Contribution to Myanmar*

The Company pays the highest attention to CSR, and multiple approaches will be employed for the best interests of both the community and the project. CSR has become one of the most important aspects of business today and is also a main concept that needs to be incorporated in an organization to ensure that it can compete with other global organizations. For protection of the environment around the project site, our construction manager company will oversee all aspects of the construction activities which includes management of the materials construction waste disposal, dust prevention and construction noise monitoring to manage possible distraction to the local residents by sounds, to be managed at the best quality possible. The construction management is also extended to the safety management for the construction workers as well as the near-by residents during the construction period by conducting periodical inspection for workers practice and applying protection materials, such as helmet, fall prevention equipment such as belt and harness when necessary, assigning traffic guard for prevention of traffic accident.

Construction waste will be collected systematically on site and processed off site with highest international waste disposal standards. Wastewater and bad water will also be collected on site so that they will not affect the ecosystem of the neighborhood. On site collection will also prevents waste and bad water to flow through neighboring premises as well as common sewage ducts in the community.

Noise and vibration will be monitored 24 hours not to disturb the neighbor’s daily lives. The noise level will be kept under 85 dB at all times and vibration level will also be kept minimum in order not to damage the common infrastructures such as roads and sewage ducts as well as neighboring structures.

The construction will use the precast concrete beams, slabs and wall panels in order to increase the speed of the project. Only pillars will be casted on site so that the noise and odor of concrete casting will be kept minimum. We will also use ready-mixed concrete in order to eliminate the noise of concrete mixing on site. We will prevent the use of bricks for inner walls as well so that the odor and noise of mortar mixing and processing will be kept minimum.

Roads will be cleaned several times a day not to leave cement and concrete dirt on them. The welfare facilities such as canteen will also be established on site so that the labors stay on side mostly all time in business hours not to disturb the neighbors. The security guards and traffic guards will be placed 24 hours in order to avoid traffic accidents as well as to provide an extra security to the neighborhood.

An office and a hotline will be established to process claims of neighbors on the construction related issues.

In addition to above, a percentage from profit after tax will be allocated as the fund for our Corporate Social Reasonability activities. We will use this fund in order to raise the level of service and hospitality industry in Myanmar. We will allocate funds to design free training programmes for those who wish to gain professional and practical training on service and hospitality. Since the operator of our serviced apartments is one of the renowned global brand with accumulated industry knowledge and experience, we will appoint lecturers, trainers and visiting personals for the courses. We will also take the interns from service and

